ပုံစံ (၃)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၀၈၁ / ၂၀၁၈ ၂၀၁၈ခုနှစ်၊ ဧပြီလ ၂၉ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ပုဒ်မခွဲ(ဂ) အရဤခွင့်ပြုမိန့်ကိုထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးဌေးမြင့်

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ် (၁၃၀)၊ ရွှေဂုံတိုင်လမ်း၊ ရေတာရှည်ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ**

(၅) **ဖွဲ့စည်းရာအရပ်**

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** ပုစွန်မွေးမြူထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** ကွင်းအမှတ် -၁၉၈၈၊ သဇင်ကွင်းပြင်ကွင်း ၊ ငွေဆောင်ကျေးရွာ၊ ပုသိမ်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီးရှိ မြေဧရိယာ ၁၆၁၀.၅၆ ဧက (၆၅၁၇၇၁၀.၈၄၁၆ စတုရန်းမီတာ)

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ**

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ**

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၆၆၄၃၅.၆၆ သန်း (အမေရိကန်ဒေါ်လာ ၂၂.၅၅၈ သန်း အပါအဝင်)

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၁၂ လ

(၁၂) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့် သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** Irrawaddy Fisheries Development Company Limited (ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေး ကုမ္ပဏီ လီမိတက်)

29.4.18

**ဥက္ကဋ္ဌ**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၇

🖷 ၀၁-၆၅၈၁၃၆

စာအမှတ် ၊ မရက- ၂/ခ-၀၁၈/၂၀၁၈( ၂၁၂-၉ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၂၉ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေး ကုမ္ပဏီ လီမိတက်(Irrawaddy Fisheries Development Company Limited) မှ ပုစွန်မွေးမြူ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်းအပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေး ကုမ္ပဏီ လီမိတက် (Irrawaddy Fisheries Development Company Limited) ၏ ၂၂-၃-၂၀၁၈ ရက်စွဲပါစာ

၁။ ဧရာဝတီရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက်(Irrawaddy Fisheries Development Company Limited) မှ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကွင်းအမှတ် -၁၉၈၈၊ သဇင်ကွင်းပြင်ကွင်း၊ ထွေဆောင်ကျေးရွာ၊ ပုသိမ်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး ရှိ မြေဧရိယာ ၁၆၁၀.၅၆ ဧက (၆၅၁၇၇၁၀. ၈၄၁၆ စတုရန်းမီတာ) ကို ငှားရမ်း၍ ပုစွန်မွေးမြူ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက်တင်ပြခြင်းအား ၂၀၁၈ ခုနှစ် ဧပြီ လ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် ဧရာဝတီရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေး ကုမ္ပဏီလီမိတက် (Irrawaddy Fisheries Development Company Limited )အား ပုစွန်မွေးမြူ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၀၈၁ / ၂၀၁၈ ကို ထုတ်ပေးလိုက် သည်။

၂။ ဧရာဝတီရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက်(Irrawaddy Fisheries Development Company Limited)အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေး ကုမ္ပဏီလီမိတက် (Irrawaddy Fisheries Development Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ ပုစွန်မွေးမြူ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု

ဥပဒေ အခန်း(၁၂) အရ မြေအသုံးပြုခွင့် နှင့် မြန်မာနိုင်ငံ ရေချိုငါးလုပ်ငန်းဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက် (Irrawaddy Fisheries Development Company Limited) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ**အဖြစ်ထားရှိ ဆောင်ရွက်အကောင်အထည်ဖော် ရမည်။

(ဂ) ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက် (Irrawaddy Fisheries Development Company Limited)အနေဖြင့် မြန်မာနိုင်ငံ ရေချိုငါးလုပ်ငန်းဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း(၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရေချိုငါးလုပ်ငန်းသူ၏ တာဝန်ဝတ္တရား များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက် (Irrawaddy Fisheries Development Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန် ထား ပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင် ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(င) ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက် (Irrawaddy Fisheries Development Company Limited) သည် ရေချိုငါးလုပ်ငန်းအား လုပ်ငန်းသက်တမ်း ကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်း ခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရေချိုငါးလုပ်ငန်း ဥပဒေ ပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရေချိုငါးလုပ်ငန်း နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရေချိုငါးလုပ်ငန်း ကော်မရှင်သို့ တင်ပြရမည်။

(စ) ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက် (Irrawaddy Fisheries Development Company Limited)သည် မြန်မာနိုင်ငံရေချိုငါးလုပ်ငန်း နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့်သို့မဟုတ် သက်သာခွင့် ရရှိထားသော ရေချိုငါးလုပ်ငန်းသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီး နောက်သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်

များ ပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဆ) ဧရာဝတီရေလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက် (Irrawaddy Fisheries Development Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ ဧရာဝတီရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက်(Irrawaddy Fisheries Development Company Limited) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်းစာချုပ်ချုပ်ဆိုသည် ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက် များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(ကျော်ဝင်း)
ဥက္ကဋ္ဌ

ဧရာဝတီရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက်(Irrawaddy Fisheries Development Co., Ltd. )

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စု အစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန
ဧရာဝတီတိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန